ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၆၅ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဆောင်ညွှန်ကြားရေးမှူး

(ခ) **အဘ အမည်** မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်**

(ဃ) **နေရပ်လိပ်စာ** ရုံးအမှတ်(၁၉)၊ သတ္တုတွင်းဝန်ကြီးဌာန၊ နေပြည်တော်။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Orient Pearl Co., Ltd.
(အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ်ဖြင့် မှတ်ကောင် သားဖောက် ပုလဲမွေးမြူ ထုတ်လုပ်ခြင်း၊ မှတ်ကောင်ပြုစုစောင့်ရှောက်ခြင်း၊ ပုလဲမွေးမြူခြင်းနှင့် ပုလဲဖော်ယူရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ် ရှိ ဂျလန်းကျွန်း (Loughborough) ရေပြင်ဧရိယာ (၂၄.၂၈) စတုရန်းကီလိုမီတာ

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၀၃၆ သန်း အပါအဝင် ကျပ် သန်းတစ်ထောင် တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၉ /၂၀၁၄ (မနသ)
၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၂၇ ရက်

၁။ သတ္တုတွင်း ဝန်ကြီးဌာန၊ မြန်မာ့ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်း နှင့် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) တို့သည် သတ္တုတွင်း ဝန်ကြီးဌာန၊ မြန်မာ့ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်းပိုင် တနင်္သာရီတိုင်း ဒေသကြီး၊ ကော့သောင်း ခရိုင်၊ ကော့သောင်းမြို့နယ်ရှိ ဂျလန်းကျွန်း (Loughborough) ရေပြင်ဧရိယာ (၂၄.၂၈)စတုရန်း ကီလိုမီတာတွင် ထုတ်လုပ်မှု အပေါ် ခွဲဝေ ခံစားသည့် စနစ်ဖြင့် မုတ်ကောင် သားဖောက် ပုလဲမွေးမြူ ထုတ်လုပ်ခြင်း၊ မုတ်ကောင် ပြုစု စောင့်ရှောက်ခြင်း၊ ပုလဲမွေးမြူခြင်း နှင့် ပုလဲ ဖော်ယူရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၀-၁-၂၀၁၄)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၁၄) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျက် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) အား ထုတ်လုပ်မှု အပေါ် ခွဲဝေ ခံစားသည့် စနစ်ဖြင့် မုတ်ကောင် သားဖောက် ပုလဲမွေးမြူ ထုတ်လုပ်ခြင်း၊ မုတ်ကောင် ပြုစုစောင့်ရှောက်ခြင်း၊ ပုလဲ မွေးမြူခြင်း နှင့် ပုလဲ ဖော်ယူရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၉၆၅/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ ရရှိသောအမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း

အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျှက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင် တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပ သို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများ အပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက် ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက် ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြု လုပ်ငန်း ၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် သတ္တုတွင်း ဝန်ကြီးဌာန၊ မြန်မာ့ပုလဲထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်းနှင့် ချုပ်ဆိုထားသည့် ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် သဘောတူ စာချုပ်ပါ စည်းမျဥ်း စည်းကမ်းအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် သတ္တုတွင်း ဝန်ကြီးဌာန၊ မြန်မာ့ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေးလုပ်ငန်း နှင့် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီ လီမိတက်)တို့သည် ပုလဲမွေးမြူ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့် လုပ်ငန်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၈။ ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် သဘောတူ စာချုပ်အရ ထုတ်လုပ် ရရှိလာသည့် ပုလဲများ နှင့် မုတ်ခွံများကို အောက်ပါအတိုင်း ခွဲဝေရမည်။

| **ထုတ်လုပ်မှုအပေါ် ခွဲဝေခြင်း** | **မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်း** | **Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်)** |
|---|---|---|
| ပုလဲ | ၂၅% | ၇၅% |
| သဘာဝအလျှောက် သေဆုံးသည့် မုတ်ကောင်များ နှင့် ခွဲသတ် မုတ်ကောင်အခွံများ | ၂၅% | ၇၅% |

၉။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် သဘောတူ စာချုပ် လက်မှတ် ရေးထိုးသည့်နေ့တွင် စာချုပ် လက်မှတ် ရေးထိုးမှု ဆုငွေ အဖြစ် ကျပ် ၁၀,၀၀၀,၀၀၀ (ကျပ် တစ်ဆယ်သန်း တိတိ)အား မြန်မာ့ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း သို့ ပေးသွင်းရမည်။

၁၀။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် သဘောတူ စာချုပ် လက်မှတ် ရေးထိုးပြီးနောက် ရက်(၃၀) အတွင်း ဘဏ် အာမခံငွေ အဖြစ် ကျပ် ၂,၀၀၀,၀၀၀ (ကျပ် သိန်းနှစ်ဆယ် တိတိ) ကို မြန်မာ့ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေးလုပ်ငန်း ၏ ဘဏ်စာရင်း သို့ ပေးသွင်း ထားရှိရမည်။ ဘဏ်အာမခံငွေ သည် ဘဏ်တွင် ထားရှိသည့် နေ့မှ (၃)နှစ် သို့မဟုတ် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) မှ ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ် ၁၀၀၀,၀၀၀,၀၀၀ (ကျပ် သန်း တစ်ထောင်တိတိ) ထက်မနည်း သုံးစွဲပြီးပါက စောသည့် ကာလ အတွင်း မြန်မာ့ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း မှ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သို့ ဘဏ် အာမခံငွေ အား ပြန်လည် ထုတ်ပေးရမည်။ ဘဏ် အာမခံငွေ ထားရှိသော ကာလ အတွင်း အဆိုပါ စာချုပ်ပါ သဘော တူညီချက်များအတိုင်း ဆောင်ရွက်ရန်၊ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်)မှ ပျက်ကွက်ခဲ့လျှင် စာချုပ်၏ အပိုင်း(၂၀)ပါ စာချုပ် ရုပ်သိမ်းခွင့်ကို မထိခိုက်စေဘဲ မြန်မာ့ပုလဲထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်းမှ ဘဏ်အာမခံငွေ၏ တစိတ်တဒေသ သို့မဟုတ် အားလုံးကို သိမ်းယူနိုင်သည်။

၁၁။ ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စာချုပ်သက်တမ်း မှာ စာချုပ် အတည်ပြုသည့် နေ့မှ စတင်မည်ဖြစ်ပြီး တိုးတက်ဖွံ့ဖြိုးမှု အဆင့်မပါ ရှေ့သို့ (၁၅)နှစ် ဖြစ်ပါမည်။ ယင်း ကာလတွင် (၁၅)နှစ် မြောက်နှစ် တွင် ဝတ်ဆံသွင်းသည့် မုတ်ကောင်များအား ပုလဲဖေါ်ယူရန် စောင့်ဆိုင်းသည့် ကာလ (၂)နှစ် မပါဝင်ပါ။

၁၂။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) မှ စာချုပ် သက်တမ်း တိုးလိုပါက (၁၅)နှစ် ပြည့်ရန် (၆)လ အလို၌ မြန်မာ့ပုလဲ ထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေး လုပ်ငန်း သို့ စာဖြင့် လျှောက်ထားနိုင်သည်။ စာချုပ် သက်တမ်း တိုးမြှင့်ခြင်းမှာ သတ္တုတွင်း ဝန်ကြီးဌာန၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်သည်။

၁၃။ ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စာချုပ် သက်တမ်း(၁၅)နှစ် ပြည့်သည့်နှစ်တွင် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) မှ သက်တမ်းတိုး ဆက်လက် လုပ်ကိုင်ခြင်း မရှိပါက သို့မဟုတ် လုပ်ပိုင်ခွင့် မရရှိပါက (၁၅)နှစ် ပြည့်သည့်နေ့ နောက်ပိုင်းရှိ တစ်ဖက်ပါအတိုင်း မြန်မာ့ပုလဲ ထုတ်လုပ်ရေး နှင့် ရောင်းဝယ်ရေး လုပ်ငန်း သို့ လွှဲပြောင်း ပေးရ မည်-

(က) ဝတ်ဆံမသွင်းရသည့် မုတ်ကောင်များ၊

(ခ) ပြန်လည်စစ်ဆေးခြင်းမှ ပုလဲမပိုက်သည့် မုတ်ကောင်များ၊

(ဂ) ပုလဲဖော်ပြီး မုတ်ကောင်များ၊

(ဃ) မုတ်ခွံများ၊

၁၄။ ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားသည့် စာချုပ်သက်တမ်း ကာလ (၁၅)နှစ် ပြည့်ပြီးသည့် နေ့တွင် သက်တမ်းတိုး ဆက်လက် လုပ်ကိုင်လိုခြင်းမရှိပါက သို့မဟုတ် လုပ်ကိုင်ခွင့်မရရှိပါက နောက်ထပ်(၂)နှစ်အထိ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ဝတ်ဆံသွင်းပြီး မုတ်ကောင်များအား ပြုစုစောင့်ရှောက်ခြင်း၊ ပြန်လည် စစ်ဆေးခြင်း နှင့် ပုလဲဖော်ခြင်း လုပ်ငန်းများအား ဆက်လက် ဆောင်ရွက်ခွင့် ရှိသည်။ သို့ရာတွင် Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်)သည် မုတ်ကောင် ထပ်မံဖမ်းဆီးခြင်း၊ မွေးမြူခြင်း၊ ဝတ်ဆံသွင်း လုပ်ငန်းများကို လုပ်ကိုင်ခြင်း မပြုရ။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာ တို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၇။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး နှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၈။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ် တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန ၏ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၉။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက် ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက် ထားမှု အခြေအနေ ကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာ ကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၂။ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာ ရမည်။

၂၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၃၆၀/၂၀၁၄( ၁၇၀၁-ယ)

ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၂၇ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

သတ္တုတွင်းဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ပုလဲထုတ်လုပ်ရေးနှင့် ရောင်းဝယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
အုပ်ချုပ်မှုဒါရိုက်တာ၊ Orient Pearl Co., Ltd. (အရှေ့တိုင်းပုလဲ ကုမ္ပဏီလီမိတက်)